# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၂၅၇/၂၀၁၇ ။ ၂၀၁၇ ခုနှစ်၊ ဇွန်လ၂၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်နော်ဆဲခူထူး

(ခ) **အဘ အမည်** ဦးစောထူးဖလယ်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၄/ကကန(နိုင်) ၁၁၀၉၀၅

(ဃ) **နေရပ်လိပ်စာ** အမှတ်(အို/၇)၊ သစ်ခွလမ်း၊ F.M.I City၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** မိဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက်(Maijiang International Building Material Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** လျှပ်စစ်ဝါယာကြိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်(၄၁-B)၊ မြေတိုင်းရပ်ကွက်အမှတ်- ၂၅၊ ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၅၀၀.၀၀ သန်း (US$ ၀.၀၁၈ သန်း အပါအဝင် ကျပ် ငါးရာသန်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ်

21.6.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၄၄ /၂၀၁၇(မနသ)

၂၀၁၇ ခုနှစ် ဇွန်လ ၂၁ ရက်

၁။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်- ၂၅၊ မြေကွက်အမှတ်-၄၁-B ရှိ မြေဧရိယာ ၁.၅၅၄ ဧက (၆,၂၈၈.၈၂၀ စတုရန်းမီတာ)တွင် လျှပ်စစ် ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၇ ခုနှစ် မေလ ၁၉ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၂၀၁၇)အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) အား လျှပ်စစ်ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၅၇/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆) အရ သတ်မှတ်ထားသောကာလအတွင်း တင်ပြခဲ့သဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို **သီးခြား ပြုစုထားရှိရမည်**။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၇။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည်အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပြုလုပ်ဆောင်ရွက် ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပေးပို့အစီရင်ခံရမည်။

၈။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်

ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည် ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ မီကျန်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။ ထုတ်လုပ်မည့် လျှပ်စစ်ဝါယာကြိုးများ၏ အရည်အသွေး အသိအမှတ်ပြုလက်မှတ်အား စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနသို့ စစ်ဆေးခံ၍ လျှောက်ထားရမည်။

၁၂။ မီကျန်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်) လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရ မည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၄။ မီကျန်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ်

တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(c)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟုမှတ်ယူရမည်။

21.6.17

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ် ၊ မရက-၃/မ-၁၄၅၈/၂၀၁၇( ၅၈၉ - ၈ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၂၂ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
အုပ်ချုပ်မှုဒါရိုက်တာ၊ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက်
(Maijiang International Building Material Company Limited)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်း များကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) ၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၄-၁၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး(ပထမအကြိမ်) | ၁-၃-၂၀၁၇ | ၁၇-၃-၂၀၁၇ | |
| | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး(ဒုတိယအကြိမ်) | ၂၃-၃-၂၀၁၇ | ၁၀-၄-၂၀၁၇ | |
| | (ခ)သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၂၈-၂-၂၀၁၇ | ၈-၃-၂၀၁၇ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁-၃-၂၀၁၇ | ၁၃-၃-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂/၂၀၁၇) သို့ တင်ပြခြင်း | ၁၀-၁-၂၀၁၇ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၁၁-၁-၂၀၁၇ | | |
| ၅ | ကုမ္ပဏီမှလိုအပ်ချက်များ ပြင်ဆင်၍ အဆိုပြုလွှာ ပြန်လည်တင်ပြခြင်း | ၁၂-၄-၂၀၁၇ | | |
| ၆ | အဆိုပြုလွှာ အစုံ (၁၀) စုံ ပေးပို့ခြင်း | | ၂၇-၄-၂၀၁၇ | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၁၃၄ ရက်** | | |

မှတ်ချက်။ ။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အတူ အဆိုပြုချက်အား ဒုတိယအကြိမ် ပြန်လည်ပေးပို့ရသည့်အတွက် ၁၃၄ ရက် ကြာမြင့်ရခြင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | မိဂျမ်းအပြည်ပြည်ဆိုင်ရာအိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | လျှပ်စစ်ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ်-၄၁-B၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ ရွှေလင်ပန်းစက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းမတည်ငွေရင်းပမာဏ | - | ကျပ် ၅၀၀.၀၀၀ သန်း (US$ ၀.၀၁၈ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်း ၇၀ % ၊ ပြည်ပ ၃၀ % |
| အရင်းကြေကာလ | - | ၄ နှစ် ၁၀ လ |
| IRR | - | ၂၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်/သန်း) | Benefit (ကျပ်/သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၂.၁၆၀ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁.၀၈၀ | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ၁,၆၁၉.၆၅၁ |
| ၅ | ဝင်ငွေခွန် | ၁,၃၁၀.၄၉၆ | ၁,၉၇၂.၀၃၅ |
| ၆ | ရေ/လောင်စာဆီ/လျှပ်စစ်မီးသုံးစွဲခ | | ၈၇၅၀.၀၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်းထမ်းဆောင်ပါမည်။ |
| ၈ | CSR ၂ % | | ၁၉၇.၂၀၅ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၄၀)ဦးအလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကိုအထောက်အကူပြုစေနိုင်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၁,၃၁၃.၇၃၆သန်း | ကျပ် ၁၂,၅၄၀.၆၇၂ သန်း |
| | Cost : Benefit | ၁ : | ၉ |

အကြောင်းအရာ။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) မှ လျှပ်စစ်ဝါယာကြိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - မီဂျမ်းအပြည်ပြည်ဆိုင်ရာအိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက်<br>- (Maijiang International Building Material Co., Ltd.) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်နော်ဆဲရူထူး(အဘ-ဦးစောထူးဖလယ်) |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | - လျှပ်စစ်ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ်-၄၁-B၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ ရွှေလင်ပန်း စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးအုန်းလွင် |
| | မြေအကျယ်အဝန်း | - ၁.၅၅၄ ဧက (၆,၂၈၈.၈၂၀ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၁၀ ပေ x ၆၀ ပေ (၁ ထပ် အဆောက်အဦ ၁ လုံး ) |
| ၅ | စုစုပေါင်းမတည်ငွေရင်းပမာဏ | ကျပ် ၅၀၀.၀၀၀ သန်း(US$ ၀.၁၁၈ သန်း အပါအဝင်) |
| | | ကျပ်(သန်း) |
| | ငွေသား | ၄၃၂.၄၀ |
| | စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ | ၂၁.၆၀ (US$ ၀.၀၁၈ သန်း အပါအဝင်) |
| | အဆောက်အအုံ(မွမ်းမံပြင်ဆင်ခြင်း) | ၃၀.၀၀ |
| | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုးပမာဏ | ၁၆.၀၀ |
| | စုစုပေါင်း | ၅၀၀.၀၀ |
| ၆ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| | ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ | - ၆ လ |
| ၇ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၇၀ % ၊ ပြည်ပ ၃၀ % |
| ၈ | ထုတ်လုပ်မှုနှင့် ရောင်းချမည့်ဈေးနှုန်း (၆နှစ်မြောက်) | |

| | ပြည်တွင်းရောင်း ၇၀ % | | ပြည်ပပို့ ၃၀ % | |
|---|---|---|---|---|
| | ထုတ်လုပ်မှု အရေအတွက် (Meter) | ရောင်းဈေးနှုန်း (ကျပ်/Meter) | ထုတ်လုပ်မှု အရေအတွက် (Meter) | ရောင်းဈေးနှုန်း (US$/Meter) |
| (က) Single Core, One Cover, PVC ($1.5mm^2$) | ၈၉၈,၈၁၁ | ၃၆၃ | ၃၈၅,၂၀၅ | ၀.၃၀ |

| | | | | | |
|---|---|---|---|---|---|
| | (ခ) Single Core, One Cover, PVC ($2.5mm^2$) | ၈၉၈,၈၁၁ | ၅၉၁ | ၃၈၅,၂၀၅ | ၀.၄၉ |
| | (ဂ) Single Core, One Cover, PVC ($4\ mm^2$) | ၈၉၈,၈၁၁ | ၉၃၄ | ၃၈၅,၂၀၅ | ၀.၇၈ |
| | (ဃ)Single Core, One Cover, PVC ($6\ mm^2$) | ၈၉၈,၈၁၁ | ၁,၄၀၁ | ၃၈၅,၂၀၅ | ၁.၁၇ |
| | (င)Single Core, One Cover, PVC ($10\ mm^2$) | ၈၉၈,၈၁၁ | ၂,၂၇၂ | ၃၈၅,၂၀၅ | ၁.၈၉ |
| | (စ)Single Core, One Cover, PVC ($16\ mm^2$) | ၈၉၈,၈၁၁ | ၃,၅၉၂ | ၃၈၅,၂၀၅ | ၂.၉၉ |
| | (ဆ)Single/Twin Two Cover, PVC/ PVC (7029 S) | ၈၉၈,၈၁၁ | ၁,၀၂၇ | ၃၈၅,၂၀၅ | ၀.၈၆ |
| ၉ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၁၃,၀၇၀.၂၉ သန်း | | | |
| | ကုမ္ပဏီအသုံးစရိတ်(၆ နှစ်မြောက်) | - ကျပ် ၁၁,၀၉၈.၂၅ သန်း | | | |
| | ကုမ္ပဏီအသားတင်အမြတ်(၆နှစ်မြောက်) | - ကျပ် ၁,၉၇၂.၀၄ သန်း | | | |
| ၁၀ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | | | | |
| | ဝင်ငွေခွန် | - ကျပ် ၆၅၇.၃၄၅ သန်း | | | |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၄၅၇.၄၉၅ သန်း (၁ US$= ၁,၂၀၀ ကျပ်) | | | |
| ၁၁ | အရင်းကြေကာလ | - ၄ နှစ် ၁၀ လ | | | |
| ၁၂ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ် နှုန်း (IRR) | - ၂၈ % | | | |
| ၁၃ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | - ၄၅ ဦး | | | |
| | ပြည်တွင်း | - ၄၀ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာ ကျပ် ၁၂၀,၀၀၀ နှင့် ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာ ကျပ် ၃၀၀,၀၀၀) | | | |
| | ပြည်ပ | - ၅ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏လစာ အမေရိကန်ဒေါ်လာ ၁၅၀၀) | | | |
| ၁၄ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၉၄၅,၀၀၀ KWh | | | |
| ၁၅ | ငွေကြေးအထောက်အထား | -ငွေကြေးအထောက်အထားအဖြစ် ၃-၁-၂၀၁၇ ရက်စွဲဖြင့် မီဂျမ်း အပြည်ပြည်ဆိုင်ရာအိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက်သည် Kanbaw- za Bank (Hlaing Tharyar 4 Branch) တွင် ကျပ် ၉,၉၉၉,၉၅၀.၀၀ ရှိကြောင်း၊ ၂၈-၁၂-၂၀၁၆ ရက်စွဲဖြင့် Myanmar Citizens Bank Ltd. တွင် အမေရိကန်ဒေါ်လာ ၅,၀၀၀ ရှိကြောင်းနှင့် ၂၆-၁၂-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ဒါရိုက်တာအစည်းအဝေးတွင် ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါ က မတည်ငွေရင်းတိုးမြှင့်ရန် သဘောတူသည့် ဆုံးဖြတ်ချက်မှတ်တမ်းကိုကို တင်ပြထားပါသည်။ | | | |

| | | |
|---|---|---|
| ၁၆ | CSR | - Corporate Social Responsibility (CSR) အဖြစ် နှစ်စဉ်ရရှိသောအမြတ်ငွေမှ ၂% ကို သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန်ဆောင်ရွက်ထားမှု အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများ သက်သာချောင်ချိရေး အစီအစဉ်၊ မီးဘေးလုံခြုံရေး စီမံချက်နှင့် တစ်နှစ်လစာ ဝင်ငွေကျပ် ၄,၈၀၀,၀၀၀ အထက်ရရှိ သော ဝန်ထမ်းများအတွက် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၇ | အခြား | - မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited)၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အမှတ်-၃၈၀၁/၂၀၁၅-၂၀၁၆ (ရက)၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဒါရိုက်တာ စာရင်းတို့ကို တင်ပြထားပါသည်။<br>- စက်ပစ္စည်းနှင့်ကုန်ကြမ်းအား တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်း မည်ဖြစ်ကြောင်းနှင့် ကုန်ကြမ်းအချို့အား ပြည်တွင်းမှ ဝယ်ယူသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသောကုန်ချောပစ္စည်းများကို စက်ရုံရှိ ကျွမ်းကျင်ပညာရှင်များမှ စစ်ဆေးမှုများပြုလုပ်ပြီး Maijiang အမှတ် တံဆိပ်ဖြင့် ရောင်းချသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မြေနှင့်အဆောက်အဦအား ကနဦး ၅ နှစ်နှင့် သက်တမ်းတိုး ၂ နှစ် ၂ ကြိမ်တိုးမြှင့်ငှားရမ်းသွားမည်ဖြစ်ပြီး နှစ်စဉ် မြေနှင့် အဆောက်အဦငှားရမ်းခမှာ ကျပ် ၄၈,၀၀၀,၀၀၀ ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/မ-၁၄၅၈/၂၀၁၇( ၄၈၇ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် မေလ ၉ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **မီဂျမ်းအပြည်ပြည်ဆိုင်ရာအိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) မှ လျှပ်စစ်ဝါယာကြိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်-၂၅၊ မြေကွက်အမှတ်-၄၁-B ရှိမြေဧရိယာ ၁.၅၅၄ ဧက (၆,၂၈၈.၈၂၀ စတုရန်းမီတာ)တွင် လျှပ်စစ်ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်နော်ဆဲခုထူး (အဘ-ဦးစောထူးဖလယ်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မီဂျမ်းအပြည်ပြည်ဆိုင်ရာအိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Company Limited)၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်အမှတ်- ၃၈၀၁/၂၀၁၅-၂၀၁၆ (ရက) (မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း များ၊ လုပ်ငန်းထုတ်လုပ်မှုလုပ်ငန်းအစီအစဉ်၊ မြေနှင့် အဆောက်အဦငှားရမ်းခြင်း သဘောတူ စာချုပ် (မူကြမ်း) အားတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅ နှစ် (သက်တမ်းတိုး ၂ နှစ် ၂ ကြိမ်) ဖြစ်ပါသည်။ လုပ်ငန်း ဆောင်ရွက်မည့် မြေမှာ စုစုပေါင်း မြေဧရိယာ ၁.၅၅၄ ဧက (၆,၂၈၈.၈၂၀ စတုရန်းမီတာ) ဖြစ်ပြီး ၎င်းတွင် ၁၁၀ ပေ x ၆၀ ပေ (၁ ထပ် အဆောက်အဦ ၁ လုံး) ပါဝင်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခနှုန်းမှာ ကျပ် ၄၈,၀၀၀,၀၀၀ ဖြစ်ပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၅၀၀.၀၀၀ သန်း ရှိပြီး ၎င်းတွင် အမေရိကန်ဒေါ်လာ ၀.၁၀၈ သန်း အပါအဝင်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းမှ ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ်(သန်း) |
|---|---|
| ငွေသား | ၄၃၂.၄၀ |
| စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ | ၂၁.၆၀ (US$ ၀.၀၁၈ သန်းအပါအဝင်) |
| အဆောက်အအုံ(မွမ်းမံပြင်ဆင်ခြင်း) | ၃၀.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ | ၁၆.၀၀ |
| **စုစုပေါင်း** | ၅၀၀.၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း (၄၀) ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၅) ဦး စုစုပေါင်း (၄၅) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ ဝန်ထမ်းတစ်ဦး၏လစာမှာ အမေရိကန်ဒေါ်လာ ၁,၅၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော လျှပ်စစ်ဝါယာကြိုးများကို ပြည်တွင်း၌ ၇၀ % ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၃၀ % တင်ပို့မည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)၏ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ပြည်တွင်းရောင်း ၇၀ % | | ပြည်ပပို့ ၃၀ % | |
|---|---|---|---|---|---|
| အမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု အရေအတွက် | ရောင်းဈေးနှုန်း (ကျပ်/Meter) | ထုတ်လုပ်မှု အရေအတွက် | ရောင်းဈေးနှုန်း (US$/Meter) |
| (က)Single Core, One Cover, PVC(1.5mm$^2$) | Meter | ၈၉၈,၈၁၁ | ၃၆၃ | ၃၈၅,၂၀၅ | ၀.၃၀ |
| (ခ)Single Core, One Cover, PVC (2.5mm$^2$) | Meter | ၈၉၈,၈၁၁ | ၅၉၁ | ၃၈၅,၂၀၅ | ၀.၄၉ |
| (ဂ)Single Core, One Cover, PVC (4 mm$^2$) | Meter | ၈၉၈,၈၁၁ | ၉၃၄ | ၃၈၅,၂၀၅ | ၀.၇၈ |
| (ဃ)Single Core, One Cover, PVC (6 mm$^2$) | Meter | ၈၉၈,၈၁၁ | ၁,၄၀၁ | ၃၈၅,၂၀၅ | ၁.၁၇ |
| (င)Single Core, One Cover, PVC (10 mm$^2$) | Meter | ၈၉၈,၈၁၁ | ၂,၂၇၂ | ၃၈၅,၂၀၅ | ၁.၈၉ |
| (စ)Single Core, One Cover, PVC (16 mm$^2$) | Meter | ၈၉၈,၈၁၁ | ၃,၅၉၂ | ၃၈၅,၂၀၅ | ၂.၉၉ |
| (ဆ)Single/Twin Two Cover, PVC/PVC (7029 S) | Meter | ၈၉၈,၈၁၁ | ၁,၀၂၇ | ၃၈၅,၂၀၅ | ၀.၈၆ |

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဖြနှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၃,၀၇၀.၂၉ |
| (ခ) | အသုံးစရိတ် | ၁၁,၀၉၈.၂၅ |
| (ဂ) | အသားတင်အမြတ် | ၁,၉၇၂.၀၄ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဖြနှစ်မြောက်) တွင် ရရှိမည့် အကျိုး အမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၆၅၇.၃၄၅ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၄၅၇.၄၉၅ သန်းဖြစ်ပါသည်။ လုပ်ငန်း၏အရင်းကြေကာလမှာ ၄ နှစ် ၁၀ လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၂၈% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာ လျှင် ၁,၂၀၀ ကျပ်ဖြင့် တွက်ချက်ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ (၆-၄-၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ်(၆၇)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြာထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန မှ** အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် ပတ်သက်၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း** ( Initial Environmental Examination-IEE) နှင့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ရေးဆွဲဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။** **နောက်ဆက်တွဲ(ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

၁၁။ ငွေကြေးအထောက်အထားအဖြစ် မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက်သည် Kanbawza Bank (Hlaing Tharyar 4 Branch) တွင် ၃-၁-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၉,၉၉၉,၉၅၀.၀၀ ရှိကြောင်း၊ Myanmar Citizens Bank Ltd. တွင် ၂၈-၁၂-၂၀၁၆ ရက်စွဲ ဖြင့် အမေရိကန်ဒေါ်လာ ၅,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် ပတ်သက်၍ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ် ရေးလုပ်ငန်းအစီအစဉ်များ တင်ပြထားပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက် မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်း၏လစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ ချမှတ်ထားသော လစာဝင်ငွေခွန် ဥပဒေအတိုင်း ဝင်ငွေခွန်ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများအား ဝန်ထမ်းအိမ်ယာများကို လိုအပ်သလို တည်ဆောက်ပေးမည်ဖြစ်ကြောင်း၊ သန့်စင်ခန်းများ လုံလောက်စွာ ထားရှိပေးမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ကျန်းမာရေး ဝန်ထမ်းများ ထားရှိသွားမည်ဖြစ်ပြီး အရေးပေါ်ဆေးကုသရေးနှင့် လိုအပ်သောဆေးဝါးများ ထားရှိပေးသွားမည်ဖြစ်ကြောင်း၊ စက်ရုံအတွင်းအပြင် သန့်ရှင်းရေးအား အချိန်ပြည့် ဆောင်ရွက် ထားရှိမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၅။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲ မည်ဖြစ်ပြီး လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက် Generator-25 KVA တစ်လုံးကို အသုံးပြုမည်ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၆။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏ ၂ % ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၇။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁၀ ရက်နေ့တွင် ကျင်းပသော (၂/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၈။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းမှထွက်ရှိလာသောကုန်ချောပစ္စည်းများကို စက်ရုံရှိကျွမ်းကျင်ပညာ ရှင်များမှ စစ်ဆေးမှုများပြုလုပ်ပြီး Maijiang အမှတ်တံဆိပ်ဖြင့် ရောင်းချသွားမည်ဖြစ် ကြောင်းတင်ပြထားပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိ ကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းများသည်ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆) အရ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ကို ၁၄-၁၂-၂၀၁၆ ရက်စွဲ ဖြင့်တင်ပြခဲ့ပြီး ၎င်းဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၉။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်- ၂၅၊ မြေကွက်အမှတ်-၄၁-B ရှိ မြေဧရိယာ ၁.၅၅၄ ဧက (၆,၂၈၈.၈၂၀ စတုရန်းမီတာ)တွင် လျှပ်စစ်ဝါယာကြိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီ လ ၁၁ ရက်

M.580
24/4

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၃.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၄၅၈/၂၀၁၇(၃၈၉)

၁။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်-၄၁-Bရှိ မြေဧရိယာ ၁.၅၅၄ ဧက (၆၂၈၈.၈၂၀ စတုရန်းမီတာ)တွင် လျှပ်စစ်ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ၁၃.၃.၂၀၁၇ ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၀/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၃)အရ ကုမ္ပဏီအနေဖြင့် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အားရယူ၍ အဆိုပြုချက်တွင် ပူးတွဲတင်ပြမှသာ သဘောထားမှတ်ချက် ပြန်ကြားနိုင်မည်ဖြစ်ပါကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်ကြားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.)၏ အဆိုပြုချက်အပေါ် သဘောထားပြန်ကြား ပေးနိုင်ပါရန် အောက်ဖော်ပြပါ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်(မိတ္တူ)အား ပူးတွဲလျက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပေးပို့လာပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁%သုံးစွဲရန် လိုအပ်ပါကြောင်း၊

(ဂ) ဓါတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့်အညီ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(င) ပြည်ပမှ ကုန်ကြမ်းပစ္စည်း(၂)မျိုးနှင့် ပြည်တွင်းမှ ကုန်ကြမ်းပစ္စည်း(၅)မျိုး၊ စုစုပေါင်း (၇)မျိုးဖြင့် ထုတ်လုပ်မှုဆောင်ရွက်မည်ဖြစ်ပြီး ကုန်ကြမ်းသုံးစွဲမှုနှုန်းများ ဆီလျော်မှု ရှိပါကြောင်း၊

(စ) ပြည်တွင်းတွင် ၇၀% နှင့် ပြည်ပသို့ ၃၀% ရောင်းချမည်ဖြစ်ပြီး စတုတ္ထနှစ်မှစ၍ အမြတ်ပေါ်သဖြင့် ကုန်ကျစရိတ်နှင့် ဝင်ငွေအချိုးသင့်လျော်မှုရှိပါကြောင်း၊ စက်ပစ္စည်း အရေအတွက်နှင့် ဝန်ထမ်းအင်အား ဆီလျော်မှုရှိပါကြောင်း၊

(ဆ) သို့ဖြစ်ပါ၍ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက်မှ လျှပ်စစ် ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အထက်ဖော်ပြပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည် ဆိုပါက စက်မှုဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း။

၃။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၆.၄.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၇)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)

( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/14.,(7)

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ် ၆၉၁
ရက်စွဲ ၂၀/၃/၁၇
ရန်ကုန်တိုင်းဒေသကြီး

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ် လ ၁၇ ရက်

M. 440
21/3

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၃.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/မ-၁၄၅၈/၂၀၁၇(၃၁၂)

၁။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်-၄၁-Bရှိ မြေဧရိယာ ၁.၅၅၄ ဧက (၆၂၈၈.၈၂၀ စတုရန်းမီတာ)တွင် လျှပ်စစ်ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၃.၃.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၀/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၃)အရ ကုမ္ပဏီအနေဖြင့် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အားရယူ၍ အဆိုပြုချက်တွင် ပူးတွဲတင်ပြမှသာ သဘောထားမှတ်ချက် ပြန်ကြားနိုင်မည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)

( နော်ပန်းသဉ္ဇာမြိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ

M. 371
8|3

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၁/MIC (OSS)/၀၁( ၉၉/၁၇ )
ရက် စွဲ၊ ၂၀၁၇ ခုနှစ် မတ်လ ၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မီဂျမ်းအပြည်ပြည်ဆိုင်ရာအိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) မှ လျှပ်စစ်ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၂-၂၀၁၇ရက်စွဲပါစာအမှတ်၊မရက-၃/ မ-၁၄၅၈/ ၂၀၁၇(၁၀၉-က)

၁။ မီဂျမ်းအပြည်ပြည်ဆိုင်ရာအိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်- ၂၅၊ မြေကွက်အမှတ်- ၄၁(B) ရှိမြေဧရိယာ ၁.၅၅၄ ဧက (၆,၂၈၈.၈၂၀ စတုရန်းမီတာ) တွင် လျှပ်စစ်ဝါယာကြိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅) နှစ်ဖြစ်ပြီး၊သက်တမ်းတိုး (၅) နှစ် (၁) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာလုပ်ငန်းတည်ဆောက်မည့်ကာလမှာ(၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းကိုအကျယ်အဝန်း ၁.၅၅၄ ဧက (၆,၂၈၈.၈၂၀ စတုရန်းပေ) ပေါ်တွင် (၁၁၀x၆၀) ပေရှိ Steel Structure အဆောက်အဦ (၁) လုံးကိုပြုပြင်မွမ်းမံ၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် PVC လျှပ်စစ်ဝါယာကြိုးအမျိုးအစား (၇) မျိုးကို (၁) နှစ်လျှင် တန်ချိန် (၃၆၀၀)ထုတ်လုပ်မည်ဖြစ်ပြီးထုတ်လုပ်မှု၏ (၇၀%) ကိုပြည်တွင်းနှင့် (၃၀%) ကိုပြည်ပသို့တင်ပို့ရောင်းချသွားမည်ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုမရှိစေရန် အဆောက်အဦအတွင်း သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ ပတ်ဝန်းကျင်ကို သန့်ရှင်းရေးဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများရေစီးရေလာ ကောင်းမွန်အောင်ပြုပြင်ခြင်း၊ စွန့်ပစ်ရေဆိုးများစနစ်တကျစွန့်ပစ်

ခြင်း၊ အမှိုက်များ စနစ်တကျစွန့်ပစ်ခြင်းနှင့် အနံ့ဆိုးများပျောက်ကင်းစေရန် အပင်များစိုက်ပျိုးသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) မီဂျမ်း အပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) မှ လျှပ်စစ်ဝါယာကြိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ပစ္စည်းများဖြတ်တောက်ခြင်း၊ ပုံသွင်းခြင်းလုပ်ငန်းတွင် အသုံးပြုသော PVC စသည့် ကုန်ကြမ်းပစ္စည်းများ၊ ကြေးနီသတ္တုများမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုဖြစ်ပေါ်နိုင်ခြင်း၊

(ခ) PVC ပလပ်စတစ်သည် မီးလောင်ရန်လွယ်ကူသော ပစ္စည်းတစ်မျိုးဖြစ်ပြီး လုပ်ငန်းအဆင့်ဆင့်မှ ထွက်ပေါ်လာမည့် Polymeric dust နှင့် အခိုးငွေ့များကြောင့် လေထုညစ်ညမ်းခြင်း၊ ဓာတုအဆိပ် (ဒိုင်အောက်စင်) များထွက်ရှိပြီး ဒိုင်အောက်စင်ဓာတ်ငွေ့ကြောင့်ကင်ဆာအမျိုးမျိုးနှင့်အသက်ရှူလမ်းကြောင်းဆိုင်ရာရောဂါများ ဖြစ်စေနိုင်ခြင်း၊

(ဂ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများ အသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်း၊

(င) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ ပြုပြင်မွမ်းမံခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပစ္စည်းသယ်ယာဉ်များ၊ စက်ယန္တရားများအသုံးပြုခြင်းကြောင့် ပတ်ဝန်းကျင်ရှိမြေထုနှင့်လေထုတို့အား ညစ်ညမ်းမှုများနှင့် အသံဆူညံမှုများ ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မီဂျမ်း အပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများ ကုမ္ပဏီလီမိတက် (Maijiang International Building Material Co., Ltd.) မှ လျှပ်စစ်ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များကိုတိတိကျကျလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း** (Initial

**Environmental Examination - IEE)** ကို ဆောင်ရွက်ပြီးပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်း ဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ် ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

၇/၃/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၃၃၀၂)

ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၁၃ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၃.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၃/ မ-၁၄၅၈ / ၂၀၁၇ (၁၁၃)

၁။ မီဂျမ်းအပြည်ပြည်ဆိုင်ရာ အိမ်ဆောက်ပစ္စည်းများကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်(၂၅)၊ မြေကွက်အမှတ်(၄၁-B)တွင် လျှပ်စစ်ဝါယာကြိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကုန်ချောပစ္စည်း (၇)မျိုး [ Single Core, One Cover, PVC (1.5mm$^2$ / 2.5mm$^2$ / 4 mm$^2$ /6 mm$^2$ / 10 mm$^2$ /16 mm$^2$),Single Twin Cover, PVC/ PVC(7029 S)] ထုတ်လုပ်ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

